ကုမ္ပဏီအမည် - MOSB Limited

လုပ်ငန်း - ဆိပ်ကမ်းတစ်ခု ထူထောင်ပြီး ကမ်းလွန်ရေနံလုပ်ငန်းများသို့ ဒီဇယ်နှင့် အခြား လုပ်ငန်းသုံး ပစ္စည်းများ ဖြန့်ဖြူးပို့ဆောင်မည့် ဝန်ဆောင်မှုလုပ်ငန်း Offshore Supply Base Service လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း (မွန်ပြည်နယ် စည်ပင်သာယာရေး အဖွဲ့မှ တစ်ဆင့်) | ၃၀-၆-၂၀၁၅ | | |
| ၂ | သဘောထား မှတ်ချက် တောင်းခံခြင်း | | | |
| | (က) မွန်ပြည်နယ် အစိုးရအဖွဲ့ (ပထမအကြိမ်) | ၂၆-၈-၂၀၁၅ | ၂-၉-၂၀၁၅ | ၆ ရက် |
| | မွန်ပြည်နယ် အစိုးရအဖွဲ့(ဒုတိယအကြိမ်) | ၁၂-၆-၂၀၁၇ | ၆-၇-၂၀၁၇ | ၂၄ ရက် |
| | (ခ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန | ၂၂-၇-၂၀၁၅ | ၁၀-၉-၂၀၁၅ | ၄၈ ရက် |
| | (ဂ) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီး ဌာန(ပထမ အကြိမ်) | ၂၆-၈-၂၀၁၅ | ၈-၉-၂၀၁၅ | ၁၂ ရက် |
| | ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီး ဌာန (ဒုတိယအကြိမ်) | ၁၉-၁၁-၂၀၁၅ | ၁၆-၂-၂၀၁၆ | ၈၈ ရက် |
| | (ဃ) လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီး ဌာန (ပထမအကြိမ်) | ၂၆-၈-၂၀၁၅ | ၇-၉-၂၀၁၅ | ၁၁ ရက် |
| | လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီး ဌာန (ဒုတိယအကြိမ်) | ၁၂-၄-၂၀၁၇ | ၂၂-၅-၂၀၁၇ | ၃၉ ရက် |
| ၃ | PAT (၂၄/၂၀၁၅) သို့ တင်ပြခြင်း | ၁၃-၇-၂၀၁၅ | | |
| ၄ | အဆိုပြုချက် ပြန်ပို့ခြင်း | ၁၉-၁၀-၂၀၁၅ | | |
| ၅ | ကုမ္ပဏီမှ တင်ပြလာခြင်း | ၂၄-၃-၂၀၁၇ | | |
| ၆ | မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့မှ တင်ပြလာခြင်း | ၉-၆-၂၀၁၇ | | |
| ၆ | ကုမ္ပဏီမှ အဆိုပြုလွှာပေးပို့ခြင်း | ၅-၇-၂၀၁၇ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **၄၉ ရက်** | | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် MOSB Limited မှ ဆိပ်ကမ်းတစ်ခု တည်ဆောက်ပြီး ကမ်းလွန်ရေနံလုပ်ငန်းများသို့ ဒီဇယ်နှင့် အခြားလုပ်ငန်းသုံးပစ္စည်းများ ဖြန့်ဖြူးပို့ဆောင်မည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - MOSB Limited |
| | လုပ်ငန်းအဆိုပြုသူအမည် | - Mr. Leonard Oh |
| | ဖွဲ့စည်းမှုပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- 2 FISH (SG) Pte Ltd. (စင်ကာပူနိုင်ငံ) ၈၀%<br>- Two Fish Supply Base Limited (မြန်မာနိုင်ငံ) ၂၀% |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - ဆိပ်ကမ်းတစ်ခု တည်ဆောက်ပြီး ကမ်းလွန် ရေနံလုပ်ငန်းများသို့ ဒီဇယ်နှင့် အခြားလုပ်ငန်းသုံးပစ္စည်းများ ဖြန့်ဖြူးပို့ဆောင်မည့် ဝန်ဆောင်မှုလုပ်ငန်း (Offshore Supply Base Service) |
| ၂။ | တည်နေရာ | -မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မုဒုံမြို့နယ်၊ ဝဲကလိကျေးရွာ အုပ်စု၊ ကွင်းအမှတ်(၉၀၂)၊ ကော့ထောကွင်းရှိ မုဒုံမြို့နယ် စည်ပင်သာယာရေး အဖွဲ့ပိုင်ကျွန်းနုမြေ(ဒီရေတော/ဓနိတောမြေ) |
| | မြေအကျယ်အဝန်း | - မြေ ၄၆ ဧက |
| | မြေပိုင်ရှင် | - မုဒုံမြို့နယ် စည်ပင်သာယာရေးအဖွဲ့ |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - ပထမနှစ်မှ ၃ နှစ်ပြည့်မြောက်အထိ တစ်လ ကျပ်သိန်း ၂၀ နှုန်း<br>- ၄ နှစ်မြောက်မှ ၅ နှစ်ပြည့်မြောက်အထိ တစ်လ ကျပ်သိန်း ၄၀ နှုန်း<br>- ၆နှစ်မြောက်မှ ၁၀နှစ်ပြည့်မြောက်အထိ တစ်လ ကျပ်သိန်း ၆၀ နှုန်း<br>- ၁၀ နှစ်နောက်ပိုင်းတွင် ဒေသပေါက်ဈေးဖြင့် ပြန်လည် တွက်ချက်မည်ဖြစ်ပါသည်။ |
| ၄။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | -၅၀ နှစ် |
| | တည်ဆောက်ရေးကာလ | -၃ နှစ် |

| | | | | | |
|---|---|---|---|---|---|
| ၅။ | စုစုပေါင်းမတည်ငွေရင်း | ကျပ် ၁၁၈, ၅၄၃.၇၁ သန်း(US$ ၉၄.၈၃ သန်း အပါအဝင်) | | | |
| | | ပြည်တွင်း | ပြည်ပ | | စုစုပေါင်း |
| | **ထည့်ဝင်မှုအမျိုးအစား** | ကျပ်(သန်း) | US$ (သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ် (သန်း) |
| | ငွေပမာဏ | ၁၉,၄၂၀.၉၈ | ၆၃.၈၂ | ၆၃,၈၂၅ | ၈၃,၂၄၅.၉၈ |
| | စက်ပစ္စည်း(ပြည်ပ) | | ၃၁.၀၁ | ၃၁,၀၁၀ | ၃၁,၀၁၀.၀၀ |
| | စက်ပစ္စည်း(ပြည်တွင်း) | ၂,၄၀၂.၀၀ | - | - | ၂,၄၀၂.၀၀ |
| | ကနဦးကုန်ကြမ်း ပစ္စည်း | ၁,၈၈၅.၇၃ | - | - | ၁,၈၈၅.၇၃ |
| | **စုစုပေါင်း** | ၂၃,၇၀၈.၇၁ | ၉၄.၈၃ | ၉၄,၈၃၅ | ၁၁၈,၅၄၃.၇၁ |
| ၆။ | ဝန်ထမ်းအင်အား (ပထမနှစ်) | - ပြည်တွင်း ၂၀ ဦး (ပျမ်းမျှလစာမှာ US$ ၅၀၀)<br>ပြည်ပ ၈ ဦး (အနိမ့်ဆုံးလစာမှာ US$ ၁,၈၀၀<br>အမြင့်ဆုံးလစာမှာ US$ ၂၀,၀၀၀) | | | |
| ၇။ | ဝင်ငွေရရှိမှု (၆နှစ်ပြောက်) | | | | |
| | နှစ်စဉ်ဝင်ငွေ<br>(ကုန်သွယ်လုပ်ငန်းခွန် ပါဝင်ပြီး) | - US$ ၄၃.၆၀၆ သန်း | | | |
| ၈။ | ကုမ္ပဏီ၏ (၆နှစ်ပြောက်) | | | | |
| | ဝင်ငွေ | - US$ ၄၃.၆၀၆ သန်း | | | |
| | အသုံးစရိတ် | - US$ ၂၀.၄၁၉ သန်း | | | |
| | အသားတင် အမြတ် | - US$ ၂၃.၁၈၆ သန်း | | | |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (၆နှစ်ပြောက်) | | | | |
| | ဝင်ငွေခွန် | - US$ ၇.၇၂၉ သန်း | | | |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၂.၁၈၀ သန်း | | | |
| | အရင်းကြေကာလ | - ၈ နှစ် | | | |
| | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၀.၁% | | | |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁၃၇၃ kWh | | | |

| | | |
|---|---|---|
| ၁၁။ | CSR | - နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% ကို အသုံးပြုမည်ဟု တင်ပြထားပါသည်။ |
| ၁၂။ | မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက် | - မီးဘေးလုံခြုံရေးအစီအမံအနေဖြင့် ဝန်ထမ်းများအား မီးသတ်သင်တန်းများ ပေးခြင်း၊ လုပ်ငန်းခွင် မဆင်းမီ တာဝန်ရှိသူများမှ ဝန်ထမ်းများအားစစ်ဆေးခြင်းစသည့် အရေးပေါ်ကာကွယ် တားဆီးမှု အစီအမံများအား တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက- ၅(စ)/န-၀၀၂/၂၀၁၇( ၃၂၂ )
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇူလိုင်လ ✓ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

**အကြောင်းအရာ။** **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် MOSB Limited မှ ဆိပ်ကမ်းတစ်ခု ထူထောင်ပြီး ကမ်းလွန်ရေနံလုပ်ငန်းများသို့ ဒီဇယ်နှင့် အခြားလုပ်ငန်းသုံးပစ္စည်းများ ဖြန့်ဖြူးပို့ဆောင်မည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် စင်ကာပူနိုင်ငံ 2 FISH (SG) Pte Ltd. မှ ၈၀%၊ မြန်မာနိုင်ငံ Two Fish Supply Base Limited မှ ၂၀% ဖြင့် MOSB Limited မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မုဒုံမြို့နယ်၊ ဝဲကလိကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၀၂)၊ ကော့ထောကွင်းရှိ မုဒုံမြို့နယ် စည်ပင်သာယာရေးအဖွဲ့ပိုင် ကျွန်းနုမြေ(ဒီရေတော/ဓနိတောမြေ)ရှိ မြေ ၄၆ ဧကတွင် ဆိပ်ကမ်းတစ်ခု တည်ဆောက်ပြီး ကမ်းလွန်ရေနံလုပ်ငန်းများသို့ ဒီဇယ်နှင့် အခြားလုပ်ငန်းသုံးပစ္စည်းများ ဖြန့်ဖြူးပို့ဆောင်မည့် ဝန်ဆောင်မှုလုပ်ငန်း မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် မွန်ပြည်နယ် စည်ပင်သာယာရေး အဖွဲ့မှ တစ်ဆင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ MOSB Limited ၏ ကုမ္ပဏီဖွဲ့စည်းတည်ထောင်မည့် သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း (မူကြမ်း)၊ 2 FISH (SG) Pte Ltd. နှင့် Two Fish Supply Base Limited တို့ ချုပ်ဆိုမည့် Subscription and Shareholders' Agreement (မူကြမ်း)၊ မွန်ပြည်နယ် စည်ပင်သာယာရေးအဖွဲ့နှင့် MOSB Limited တို့ ချုပ်ဆိုမည့် BOT စနစ်ဖြင့် မြေငှား ရမ်းခြင်း သဘောတူစာချုပ် (Master Lease Agreement) (မူကြမ်း)၊ 2 FISH (SG) Pte. Ltd. နှင့် MOSB Limited တို့ချုပ်ဆိုမည့် Intercompany Loan Facility Agreement (မူကြမ်း)၊ မွန်ပြည်နယ် စည်ပင်သာယာရေးအဖွဲ့နှင့် MOSB Limited တို့ ချုပ်ဆိုမည့် Memorandum of Agreement (MOA) (မူကြမ်း) များ အား တင်ပြထားပါသည်။

၃။ မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ နှင့် MOSB Limited တို့ ချုပ်ဆိုမည့် BOT စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (Master Lease Agreement) (မူကြမ်း) တွင် အောက်ပါအချက်များ ပါဝင်ပါသည်-

(က) စာချုပ်သက်တမ်းသည် ဤသဘောတူ စာချုပ်ချုပ်ဆိုသောနေ့ရက်တွင် စတင်ရမည်ဖြစ်ပြီး၊ ဤအပိုဒ်နှင့်အညီ သဘောတူစာချုပ်ကို သက်တမ်းတိုးမြှင့်ခြင်း သို့မဟုတ် ဖျက်သိမ်းခြင်း မရှိပါက၊ နှစ်ငါးဆယ် (၅၀) တိုင်အောင် ဆက်လက် သက်တမ်းရှိနေမည်။(ဤစာချုပ်နောက်ပိုင်းတွင်ကနဦးငှားရမ်းကာလဟုခေါ်ဆိုမည်။)

(အပိုဒ်-၄၊ ပိုဒ်ခွဲ-၄.၁)

(ခ) ဤသဘောတူစာချုပ် ချုပ်ဆိုသည့်နေ့ရက်မှ စတင်၍ ဤသဘောတူစာချုပ်ချုပ် ဆိုပြီးနောက် ၃ နှစ် ကာလပြည့်မြောက်သည့်အချိန်အထိ အချိန်ကာလ(တည်ဆောက်ရေးကာလ)အတွက် ကျသင့်သည့် ငှားရမ်းခသည် မြေဧရိယာ တစ်ရပ်လုံးဖြစ်သော ၄၆ ဧကအတွက် တစ်လလျှင် မြန်မာကျပ်ငွေ ၂,၀၀၀,၀၀၀ ဖြစ်ရမည်။

[အပိုဒ်-၅၊ ပိုဒ်ခွဲ-၅.၁(က)]

(ဂ) ဤသဘောတူ စာချုပ်ချုပ်ဆိုပြီးနောက် ၃ နှစ်ပြည့် မြောက်သည့်အချိန်မှ စတင်၍ ဤသဘောတူ စာချုပ်ချုပ်ဆိုပြီးနောက် ၅ နှစ် ပြည့်မြောက်သည့် အချိန်အထိ (ကနဦးလုပ်ငန်း စတင်ဆောင်ရွက်သည့်ကာလ) အတွက် ကျသင့်သည့် ငှားရမ်းခသည် တစ်လလျှင် မြန်မာကျပ်ငွေ ၄,၀၀၀,၀၀၀ ဖြစ်ရမည်။ [အပိုဒ်-၅၊ပိုဒ်ခွဲ-၅.၁(ခ)]

(ဃ) ဤသဘောတူစာချုပ် ချုပ်ဆိုပြီးနောက် ၅ နှစ်ပြည့်မြောက်သည့်အချိန်မှ စတင်၍ ဤသဘောတူစာချုပ် ချုပ်ဆိုပြီးနောက် ၁၀ နှစ် ပြည့်မြောက်သည့် အချိန်အထိ ကာလအတွက် ကျသင့်သည့် ငှားရမ်းခသည် တစ်လလျှင် မြန်မာကျပ်ငွေ ၆,၀၀၀,၀၀၀ ဖြစ်ရမည်။ [အပိုဒ်-၅၊ ပိုဒ်ခွဲ-၅.၁(ဂ)]

၄။ လုပ်ငန်းစီမံကိန်း သက်တမ်းကာလမှာ ၅၀ နှစ်ဖြစ်ပြီး တည်ဆောက်မှုကာလမှာ ၃ နှစ်ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်း ပမာဏမှာ ကျပ် ၁၁၈,၅၄၃.၇၁ သန်း (US$ ၉၄.၈၃ သန်း အပါအဝင်) ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ထည့်ဝင်သည့် အမျိုးအစား | ပြည်တွင်း ကျပ်(သန်း) | ပြည်ပ US$(သန်း) | ပြည်ပ ညီမျှသော ကျပ်(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|
| ငွေသား | ၁၉,၄၂၀.၉၈ | ၆၃.၈၂ | ၆၃,၈၂၅ | ၈၃,၂၄၅.၉၈ |
| စက်ပစ္စည်း(ပြည်ပ) | | ၃၁.၀၁ | ၃၁,၀၁၀ | ၃၁,၀၁၀.၀၀ |
| စက်ပစ္စည်း(ပြည်တွင်း) | ၂,၄၀၂.၀၀ | - | - | ၂,၄၀၂.၀၀ |
| ကနဦးကုန်ကြမ်းပစ္စည်း | ၁,၈၈၅.၇၃ | - | - | ၁,၈၈၅.၇၃ |
| **စုစုပေါင်း** | **၂၃,၇၀၈.၇၁** | **၉၄.၈၃** | **၉၄,၈၃၅** | **၁၁၈,၅၄၃.၇၁** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် စုစုပေါင်း ဝန်ထမ်းအင်အား ၂၈ ဦးဖြင့် ဆောင်ရွက်မည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း ၂၀ ဦး ခန့်ထားမည်ဖြစ်ပြီး ပျမ်းမျှလစာမှာ အနိမ့်ဆုံး လစာနှင့် US$ ၅၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း ၈ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၁,၈၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်း၏ (ဆဋ္ဌမနှစ်) တွင် ဝင်ငွေရရှိမှုမှာ US$ ၄၃.၆၀၆ သန်း ဖြစ်ပါသည်။ (ဝန်ဆောင်မှုနှုန်းထားနှင့် ဝန်ဆောင်မှုပုံစံ ဖော်ပြထားသည့် အသေးစိတ်ဇယားအား ပူးတွဲဖြင့် တင်ပြထားပါသည်။)

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် (ဆဋ္ဌမနှစ်) တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေနှင့် အသုံး စရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄၃.၆၀၆ |
| (ခ) | အသုံးစရိတ် | ၂၀.၄၁၉ |
| (ဂ) | အသားတင်အမြတ် | ၂၃.၁၈၆ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမနှစ်) တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၇.၇၂၉ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလ မှာ ၈ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း IRR မှာ ၁၀.၁% ဖြစ်ပါ သည်။

၁၀။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထား များ တောင်းခံခဲ့ရာ တစ်ဘက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **မွန်ပြည်နယ်အစိုးရအဖွဲ့မှ** ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိကြောင်း၊ မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါကြောင်း၊ ဖော်ပြပါ မြေနေရာအား အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်းနှင့် လုပ်ငန်းဆောင်ရွက်နိုင်မည့်မြေနေရာမှာ သင့်လျော်ပါကြောင်း နှင့် ၅-၇-၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မွန်ပြည်နယ် အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၇/၂၀၁၇) အဆုံးဖြတ်ချက်အပိုဒ် (၄၈)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားလာပါသည်။ **(နောက်ဆက်တွဲ-က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက် ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းရေးဆွဲချမှတ်ခြင်း၊ ပို့ဆောင်ရေး လုပ်ငန်းစဉ်အလိုက် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့်အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးအကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင် ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင် အမြတ်ငွေ၏ ၂% ကို အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည် ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် **ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း** (Environmental Impact Assessment-EIA) ကို ဆောင်ရွက်ပြီး EIA အစီရင်ခံစာတင်ပြရန်။

(၃) အထက်ပါ ဆန်းစစ်မှုရလဒ်များကို အခြေခံ၍ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည် တို့ပါဝင်

သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာ ကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်။

**ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၏ ညွှန်ကြားချက် များအား လိုက်နာမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (EMP) နှင့် ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှု ဆန်းစစ်ခြင်း (ESIA) အစီအစဉ်များကို Eguard Environmental Services Co., Ltd.နှင့် ရေးဆွဲ ဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။ (နောက်ဆက်တွဲ-ခ)**

(ဂ) **လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် ကိစ္စနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထား မှတ်ချက် ပြန်ကြားလာပါသည် -

(၁) မြန်မာ့ကမ်းလွန် ပင်လယ်ပြင်တွင် ရေနံနှင့်သဘာဝဓာတ်ငွေ့ ရှာဖွေ၊ တူးဖော်၊ ထုတ်လုပ်ရေးလုပ်ငန်းများ ဆောင်ရွက်လျက်ရှိသည့် နိုင်ငံခြားရေနံကုမ္ပဏီများမှ Offshore Supply Base အသုံးပြု၍ ဝန်ဆောင်မှုငှားရမ်းရန်လိုအပ်ပါက လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနအနေဖြင့် တင်ဒါဖိတ်ခေါ် ဆောင်ရွက်သွားမည် ဖြစ်ကြောင်း။

(၂) လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန အနေဖြင့်လည်း လက်ရှိအချိန်တွင် Offshore Supply Base Service လုပ်ငန်းအား ပုဂ္ဂလိကလုပ်ငန်းရှင် များနှင့်လည်း အကျိုးတူ ပူးပေါင်းဆောင်ရွက်ရန် စီစဉ်လျက်ရှိရာ လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသော ကုမ္ပဏီများအနေဖြင့် မြန်မာ့ရေနံနှင့် သဘာဝဓာတ်ငွေ့ လုပ်ငန်းနှင့် အကျိုးတူ ပူးပေါင်း ဆောင်ရွက်သည့် JV ကုမ္ပဏီ နည်းတူ တင်ဒါ ဝင်ရောက် ယှဉ်ပြိုင်ရမည် ဖြစ်ကြောင်း။

(၃) MOSB Limited တည်ထောင်၍ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မုဒုံမြို့နယ်၊ ဝဲကလိကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၀၂)၌ Offshore Supply Base Service လုပ်ငန်းဆောင်ရွက်ရန် အဆိုပြု တင်ပြလာခြင်းအပေါ် လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါ ကြောင်း။

**(နောက်ဆက်တွဲ-ဂ)**

(ဃ) **ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန** မှ အောက်ပါအချက်များကို လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိကြောင်း ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၆ ရက်နေ့ ရက်စွဲပါစာဖြင့် ပြန်ကြားလာပါသည်-

(၁) မြေပိုင်ဆိုင်မှု အထောက်အထား တင်ပြရန်။

(၂) MOSB Limited မှ တည်ဆောက်မည့် International Port အတွက် တံတား ဒီဇိုင်းပုံစံများကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ အတည်ပြုချက်ရယူရန်။

(၃) လစဉ်မြေငှားရမ်းခများအား ကောက်ခံနိုင်ရေးအတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် မြေငှားစာချုပ် ချုပ်ဆိုဆောင်ရွက်ရန်။

(၄) ဆိပ်ခံတံတားတည်ဆောက်ပြီးပါက မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ဆိပ်ကမ်းလုပ်ငန်းလိုင်စင် လျှောက်ထားရန်။

(၅) မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ဥပဒေကို လိုက်နာဆောင်ရွက်ရန်။

**ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့် အညီ လိုက် နာဆောင်ရွက်ရမည့်အချက်များအား မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့မှ လိုက်နာဆောင်ရွက် ပြီးစီးမှုများနှင့် ဆက်လက်ဆောင်ရွက်သွားမည့် အခြေအနေအား ၂၀၁၆ ခုနှစ် မတ်လ ၁၆ ရက်နေ့ရက်စွဲဖြင့် ပြန်လည် တင်ပြထားပါသည်။** **(နောက်ဆက်တွဲ-ဃ)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Two Fish Supply Base Limited မှ ၁၄-၃-၂၀၁၆ ရက်စွဲဖြင့် ယူနိုက်တက် အမရာဘဏ်(စမ်းချောင်းဘဏ်ခွဲ)၌ ကျပ် ၁၉၉,၈၇၅ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ မီးဘေးလုံခြုံရေးအစီအမံအနေဖြင့် ဝန်ထမ်းများအား မီးသတ်သင်တန်းများပေးခြင်း၊ လုပ်ငန်းခွင် မဆင်းမီ တာဝန်ရှိသူများမှ ဝန်ထမ်းများအားစစ်ဆေးခြင်းစသည့် အရေးပေါ် ကာကွယ်တားဆီးမှု အစီအမံများအား တင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ခွင့်ကို ၂၀၁၅ ခုနှစ် ဇွန်လ ၁၃ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၂၄/၂၀၁၅) အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၄။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါ အတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) အဆိုပါ လုပ်ငန်းသည် ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၁၈ ရက်နေ့တွင် ထုတ်ပြန်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၆ တွင် ပါဝင်သဖြင့် ခွင့်ပြုမိန့် ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

(ခ) လုပ်ငန်း ဆောင်ရွက်မည့်နေရာသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၂၂ ရက်နေ့တွင်ထုတ်ပြန်သော အမိန့်ကြော်ငြာစာ အမှတ် (၁၀/၂၀၁၇) အရ ဇုန်(၂) ဖွံ့ဖြိုးမှု အသင့်အတင့်ရှိသော ဒေသများ စာရင်းတွင် ပါဝင်သဖြင့် ရင်းနှီးမြှုပ်နှံသူအား စီးပွားဖြစ်စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း ၅ နှစ် အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) အဆိုပါလုပ်ငန်းသည် ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပြန်သော အမိန့်ကြော်ငြာစာအမှတ် (၁၃/၂၀၁၇)အရ ထောက်ပံ့ပို့ဆောင်ရေးလုပ်ငန်းများကို ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ သတ်မှတ်ခြင်းတွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ သို့ဖြစ်ပါ၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် MOSB Limited မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မုဒုံမြို့နယ်၊ ဝဲကလိကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၀၂)၊ ကော့ထော့ကွင်းရှိ မုဒုံမြို့နယ် စည်ပင်သာယာရေးအဖွဲ့ပိုင် ကျွန်းနုမြေ(ဒီရေတော/ခိုတောမြေ)ရှိ မြေ ၄၆ ဧကတွင် ဆိပ်ကမ်းတစ်ခု တည်ဆောက်ပြီး ကမ်းလွန်ရေနံ လုပ်ငန်းများသို့ ဒီဇယ်နှင့်အခြား လုပ်ငန်းသုံးပစ္စည်းများ ဖြန့်ဖြူးပို့ဆောင်မည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

ပူးတွဲ

ဝန်ဆောင်မှုနှုန်းထားနှင့် ဝန်ဆောင်မှုအမျိုးအစားများ (ဆဋ္ဌမမြောက်နှစ်)

| Charges for Port and Marine Services | Yr 6 |
|---|---|
| Cost per berthing; | US$ |
| Berthing Fee | ၃၇,၅၀၀ |
| Mooring Fee | ၄,၉၅၀ |
| Water Servicing Fee | ၁,၈၀၀ |
| Sale of water | ၁၅၀,၀၀၀ |
| Water disposal Fee | ၁,၅၀၀ |
| Wharfage Fee | ၇,၅၀၀ |
| Charges for Equipment Hire and Services | |
| Hire for Trucks & Cranes | ၉,၄၅၀ |
| Hire for forklifts | ၁၃,၅၀၀ |
| Charges for Labour/Manpower Services | |
| Supervisor Charges | ၁၀,၁၂၅ |
| General Workers Charges | ၆,၀၇၅ |
| Rental of Open Yard | ၂,၁၇၆,၇၄၈ |
| Rental of Warehouse | ၁,၀၃၂,၉၆၀ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**ပြည်နယ်အစိုးရအဖွဲ့**
**မွန်ပြည်နယ်**

စာအမှတ် ၂၀၀ / ၂ - ၄ / အဖရ(မွန်)(၁၆၃၇)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဇူလိုင်လ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ ။ **ဝန်ဆောင်မှုလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုနိုင်ပါရန်ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၂-၆-၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၅(စ)/နု-ထွေ/၂၀၁၇(၂၆၈)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် စင်္ကာပူနိုင်ငံ 2 FISH (SG) Pte Ltd.မှ ၈၀%၊ မြန်မာနိုင်ငံ Two Fish Supply Base Limited မှ ၂၀% ဖြင့် MOSB Limited တည်ထောင်ပြီး မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မုဒုံမြို့နယ်၊ ဝဲကာလီကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၀၂)၊ ကော့တာကွင်းရှိ မုဒုံမြို့နယ်စည်ပင်သာယာရေးအဖွဲ့ပိုင် ကျွန်းနုမြေ(ဒီရေတော/ခေတ်ဘောမြေ)ရှိ မြေဧရိယာ(၄၆)ဧကတွင် ဆိပ်ကမ်းတစ်ခုတူထောင်ပြီး ကမ်းလွန်ရေနံလုပ်ငန်းများသို့ ဒီဇယ်နှင့်အခြားလုပ်ငန်းသုံး ပစ္စည်းများဖြန့်ဖြူးပို့ဆောင်မည့် ဝန်ဆောင်မှုလုပ်ငန်း Offshore Supply Base Service လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြခြင်းနှင့်ပတ်သက်၍ မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့ ညွှန်ကြားရေးမှူး ခေါင်းဆောင်သောအဖွဲ့ဖြင့် ကွင်းဆင်းစစ်ဆေးစေခဲ့ရာ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိကြောင်း၊ မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပါကြောင်း၊ ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်းနှင့် လုပ်ငန်းဆောင်ရွက်နိုင်မည့်မြေနေရာမှာ သင့်လျော်ပါကြောင်း အစီရင်ခံတင်ပြလာသဖြင့် (၅-၇-၂၀၁၇)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မွန်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၂၇/၂၀၁၇) ဆုံးဖြတ်ချက်အပိုဒ်(၄၈)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(လှဝင်းတင်၊ အတွင်းရေးမှူး)

EI Cab 110

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

MPA 4224 11.9.15 M3-892

စာအမှတ် ၃(၂)/၁၆(စ)(၆)/( ၂၃၆၄ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ စက်တင်ဘာလ ၁၀ ရက်

M-1678 14/9/15

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂ - ၇ - ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃ / မ - ၁၂၂၆ / ၂၀၁၅ ( ၉၅၆ )

၁။ စင်ကာပူနိုင်ငံ 2 FISH (SG) Pte,Ltd. မှ ၈၀% နှင့် မြန်မာနိုင်ငံ Two Fish Supply Base Limited မှ ၂၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် MOSB Limited တည်ထောင်ပြီး မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မုဒုံမြို့နယ်၊ ဝဲကလိကျေးရွာအုပ်စု၊ ကွင်းအမှတ် ( ၉၀၂ )၊ ကော့တာကွင်းရှိ မုဒုံမြို့နယ်စည်ပင်သာယာရေးအဖွဲ့ပိုင် ကျွန်းနုမြေ ( ဒီရေတော / ခနိတော ) ရှိ မြေ ( ၄၆ ) ဧကတွင် ဆိပ်ကမ်းတစ်ခုထူထောင်ပြီး ကမ်းလွန်ရေနံလုပ်ငန်းများသို့ ဒီဇယ်ဆီ နှင့် အခြား လုပ်ငန်းသုံးပစ္စည်းများ ဖြန့်ဖြူးပို့ဆောင်မည့် ဝန်ဆောင်မှုလုပ်ငန်း (Offshore Supply Base Service ) ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြား လာပါသည်။

၂။ အဆိုပြု စီမံကိန်း တည်ဆောက်ရေးကာလတွင် မြေများတူးဖော်ခြင်း ၊ ရေကာန်ရံများ တည်ဆောက်ခြင်း ၊ ပင်လယ်အတွင်း ဆိပ်ခံတံတားများတည်ဆောက်ခြင်းကြောင့် အမှုန်အမွှား များထွက်ရှိနိုင်ခြင်း ၊ တည်ဆောက်ရေး စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မှုမရှိပါက ရေနေ သတ္တဝါ၊ ပင်လယ်ပြင်နှင့် မြေထုညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း၊ လုပ်ငန်းလည်ပတ်စဉ် ကာလ တွင် ယာဉ် / ယန္တရားများ သွားလာမှုကြောင့် ယာဉ်အန္တရာယ်များ ဖြစ်ပေါ်နိုင်ခြင်း ၊ ဒီဇယ်ဆီ နှင့် အခြားလုပ်ငန်းသုံး ပစ္စည်းများ ဖြန့်ဖြူးပို့ဆောင်မည်ဖြစ်သဖြင့် ယိုစိမ့်မှုများ ဖြစ်ပွားပါက ရေနေသတ္တဝါတို့၏ဂေဟစနစ်များပျက်ယွင်းမှုဖြစ်ပေါ်နိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ ဖော်ပြပါ စီမံကိန်းလုပ်ငန်း ဆောင်ရွက်ရာတွင် တစ်ဖက်ဖော်ပြပါ အချက်များကို ထည့်သွင်း ဆောင်ရွက်ရန် လိုအပ်ပါသည်-

(က) စက်သုံးဆီများသည် မီးလောင်လွယ်ပြီး ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်စေနိုင်သဖြင့် မတော်တဆ မီးလောင်ကျွမ်းမှုမဖြစ်ပေါ်စေရန် နှင့် ဖြစ်ပေါ်ပါက ကြီးမားသော လောင်စာ ဆီသိုလှောင်ကန်များ ပြင်းထန်စွာပေါက်ကွဲနိုင်သဖြင့် ပတ်ဝန်းကျင် ထိခိုက်မှုမဖြစ်ပေါ်စေရန်တည်ဆောက်အသုံးပြုမည့် အစီအမံများရေးဆွဲချမှတ်ရန်၊

(ခ) လုပ်ငန်းလည်ပတ်စဉ်ကာလအတွင်းပို့ဆောင်မည့် ပစ္စည်းများလုံခြုံမှုရှိရေးနှင့်ယို ဖိတ်မှုမရှိစေရေးအတွက် ကြိုတင်ကာကွယ်ရေးအစီအမံများရေးဆွဲဆောင်ရွက်ရန်၊

(ဂ) ဖြစ်ပေါ်လာနိုင်သည့် သဘာဝဘေးအန္တရာယ်များအတွက် အရေးပေါ် ဆောင်ရွက် ရမည့် စီမံချက်များ ရေးဆွဲဆောင်ရွက်ထားရှိရန်၊

(ဃ) စွန့်ထုတ်ရေသန့်စင်စက်ရုံ ( Sewage Treatment Plant ) ထည့်သွင်းတည် ဆောက်ရန် နှင့် နိုင်ငံတကာသတ်မှတ် စံချိန်စံညွှန်းများ နှင့် အညီ သန့်စင် စွန့်ထုတ်ရန်၊

၄။ သို့ဖြစ်ပါ၍ MOSB Limited မှ ဆိပ်ကမ်းတစ်ခုထူထောင်ပြီး ကမ်းလွန်ရေနံ လုပ်ငန်း များသို့ ဒီဇယ်ဆီနှင့်အခြားလုပ်ငန်းသုံးပစ္စည်းများ ဖြန့်ဖြူးပို့ဆောင်မည့် ဝန်ဆောင်မှုလုပ်ငန်း Offshore Supply Base Service လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း နှင့် ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) ကမ်းလွန်ရေနံလုပ်ငန်းများသို့ ဒီဇယ်ဆီ နှင့် အခြားလုပ်ငန်းသုံး ပစ္စည်းများ ဖြန့်ဖြူးပို့ဆောင်မည့် ဝန်ဆောင်မှုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်း ကျင်နှင့်လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲ ချမှတ်ခြင်း ၊ ပို့ဆောင်ရေးလုပ်ငန်းစဉ်အလိုက် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့်စနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြု လွှာတွင်ပါဝင်သည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု ( CSR ) အတွက် အသားတင် အမြတ်ငွေ၏ ( ၂ % ) အား ထည့်ဝင်ရန် အပါအဝင် ကတိကဝတ်များ ၊ လုပ်ငန်း စီမံချက်များအတိုင်း အကောင် အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး နှင့် ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကို ဆောင်ရွက်ပြီး EIA အစီရင်ခံစာတင်ပြရန်၊

(ဂ) အဆိုပါ ဆန်းစစ်မှုရလဒ်များကို အခြေခံ၍ စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စွန့်ပစ်မည့် အစီအစဉ်များ ပါဝင်သည့် စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့် လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင် အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံး လုပ်နည်း ၊ ညွှန်ကြားချက်များ ၊ စံချိန်စံညွှန်းများ နှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(င) သက်ဆိုင်ရာပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

နောက်ဆက်တွဲ(ဂ)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန

NPT-1784
22/5/2017

စာအမှတ်၊ စွမ်းအင်/ မူဝါဒ -ဥပဒေ-လုပ်ငန်းစစ်/ ၁၄(၂၉၁/၂၀၁၇)
ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ မေလ ၂၂ ရက်

M4-0405
23.5.17

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ ယင်းကော်မရှင်၏ ၁၂-၄-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၅(စ)/ နှ-၆၆၀/ ၂၀၁၇ (၁၆၅)

၁။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ Two Fish Supply Base Limited မှ ၂၀%၊ စင်္ကာပူနိုင်ငံ 2 FISH (SG) Pte. Ltd. မှ ၈၀% ဖြင့် MOSB Limited တည်ထောင်၍ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မုဒုံမြို့နယ်၊ ဝဲကလိကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၀၂)၊ ကော့တာကွင်းရှိ မုဒုံမြို့နယ် စည်ပင်သာယာရေးအဖွဲ့ပိုင် ကျွန်းနုမြေ(ဒီရေတော/ဓနိတောမြေ) ရှိမြေ ၄၆ဧက တွင် ဆိပ်ကမ်းတစ်ခုထူထောင်ပြီး ကမ်းလွန်ရေနံလုပ်ငန်းများသို့ ဒီဇယ်နှင့်အခြား လုပ်ငန်းသုံးပစ္စည်းများ ဖြန့်ဖြူးပို့ဆောင်မည့်ဝန်ဆောင်မှုလုပ်ငန်း Offshore Supply Base Service (OSB) လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အပေါ် ယင်းကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် သဘောထားတောင်းခံလာပါသည်။

၂။ အဆိုပြု Offshore Supply Base Service လုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၄၂အရ ကန့်သတ်သည့် ရင်းနှီးမြှုပ်နှံမှုအမျိုးအစားဖြစ်ပြီး၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁၅/၂၀၁၇ ဖြင့်ထုတ်ပြန်သော ကန့်သတ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများသတ်မှတ်ခြင်းစာရင်း၏ အပိုဒ်(ဃ) သက်ဆိုင်ရာဝန်ကြီးဌာနများ၏ အတည်ပြုချက်ဖြင့် ဆောင်ရွက်နိုင်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများ အစီအစဉ်အပိုဒ်(၆)အရ ဤဝန်ကြီးဌာန၏ အတည်ပြုချက်ရယူဆောင်ရွက်ရမည့် လုပ်ငန်းအမျိုးအစားဖြစ်ကြောင်း စိစစ် တွေ့ရှိရပါသည်။ ဤဝန်ကြီးဌာနအနေဖြင့်လည်း လက်ရှိအချိန်တွင် Offshore Supply Base Service လုပ်ငန်းအား ပုဂ္ဂလိကလုပ်ငန်းရှင်များနှင့်လည်း အကျိုးတူပူးပေါင်းဆောင်ရွက်ရန် စီစဉ်လျက်ရှိပါသည်။

၃။ မြန်မာ့ကမ်းလွန်ပင်လယ်ပြင်တွင်နိုင်ငံခြားရေနံကုမ္ပဏီများမှ ရခိုင်ကမ်းလွန်လုပ်ကွက် ၁၆ကွက်နှင့် တနင်္သာရီကမ်းလွန်လုပ်ကွက်၂၁ကွက် စုစုပေါင်း ၃၇ကွက်တို့တွင် ဆောင်ရွက်လျက်ရှိပါသည်။ အဆိုပါကမ်းလွန်လုပ်ကွက်များအတွက် Offshore Supply Base Service လုပ်ငန်း ပမာဏကန့်သတ်ချက်အရ ရခိုင်နှင့်ဧရာဝတီဒေသ၌ ၁ခု၊ တနင်္သာရီဒေသ၌ ၁ခု တည်ဆောက်ပါက လုံလောက်နိုင်မည်ဖြစ်ပါသည်။ အရေအတွက်များပြားလာပါက ကမ်းလွန်ရေနံလုပ်ငန်းကို အထောက်အကူပြုရမည့် ဝန်ဆောင်မှုလုပ်ငန်းများ Contract ရရှိမှု နည်းပါးလာနိုင်သည့် အခက်အခဲများရှိလာနိုင်ကြောင်းသုံးသပ်ရရှိပါသည်။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာသည့် (Individual Proposal) Company များအား အချင်းချင်း စုပေါင်း၍ အဆင့်အတန်းမီ OSB တည်ထောင်နိုင်ရန် အကြံပြုပေးပါရန်လည်း အသိပေးအပ်ပါသည်။

၄။ မြန်မာ့ကမ်းလွန်ပင်လယ်ပြင်တွင် ရေနံနှင့်သဘာဝဓာတ်ငွေ့ရှာဖွေ၊ တူးဖော် ထုတ်လုပ်ရေးလုပ်ငန်းများ ဆောင်ရွက်လျက်ရှိသည့် နိုင်ငံခြားရေနံကုမ္ပဏီများမှ Offshore Supply Base အသုံးပြု၍ ဝန်ဆောင်မှုလုပ်ငန်းများ ငှားရမ်းရန်လိုအပ်ပါက တင်ဒါဖိတ်ခေါ်ဆောင်ရွက်ရမည်ဖြစ်ရာ Offshore Supply Base Service လုပ်ငန်းလုပ်ကိုင်ခွင့်ရရှိသောကုမ္ပဏီများအနေဖြင့် အပိုဒ်(၂)ပါ အစီအစဉ်အရ မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်းနှင့် အကျိုးတူပူးပေါင်းဆောင်ရွက်သည့် JV ကုမ္ပဏီနည်းတူ တင်ဒါဝင်ရောက်ယှဉ်ပြိုင်ရမည်ဖြစ်ကြောင်း ကြိုတင်အသိပေးအပ်ပါသည်။

၅။ သို့ဖြစ်ပါ၍ ယခုအဆိုပြုတင်ပြသည့် Offshore Supply Base Service လုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ တင်ပြလာခြင်းဖြစ်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံ Two Fish Supply Base Limited မှ ၂၀%၊ စင်္ကာပူနိုင်ငံ 2 FISH (SG) Pte. Ltd. မှ ၈၀% ဖြင့် MOSB Limited တည်ထောင်၍ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မုဒုံမြို့နယ်၊ ဝဲကလိကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၀၂)၌ Offshore Supply Base Service အား လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြလာခြင်းအပေါ် ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၅ ၅ ၁၇

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

( ထိန်လွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်း

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**ပို့ဆောင်ရေးဝန်ကြီးဌာန**

**ဝန်ကြီးရုံး**

စာအမှတ်၊ ၅၂-ပဆ/ခွဲ(၁) ၂၀၁၆(ည)(၂/ ၂၀၂ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၆ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉.၁၁.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက- ၄/ န - ၀၃၀ / ၂၀၁၅ (၉၁၀)

၁။ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မုဒုံမြို့နယ်၊ဝဲကလိကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၀၂)၊ ကော့တာကွင်းရှိ မုဒုံမြို့နယ်စည်ပင်သာယာရေးအဖွဲ့ပိုင်၊ ကျွန်းနုမြေရှိ မြေ(၄၆)ဧကပေါ်တွင် MOSB Limited မှ ဆိပ်ကမ်းတစ်ခုထူထောင်ပြီး Offshore Supply Base Service လုပ်ငန်းလုပ်ကိုင်နိုင်ရေးအတွက် ယာယီခွင့်ပြုမိန့် ထုတ်ပေးပါရန် မွန်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့မှ တင်ပြချက်အပေါ် ပို့ဆောင်ရေးဝန်ကြီးဌာနမှ သဘောတူ/မတူ လမ်းညွှန်မှုပြုနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါ ကိစ္စနှင့်စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမည့် MOSB Limited အနေဖြင့် အောက်ဖော်ပြပါ အချက်များကို လိုက်နာဆောင်ရွက်မည်ဆိုပါက ပို့ဆောင်ရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားအပ်ပါသည်-

(က) မြေပိုင်ဆိုင်မှု အထောက်အထား တင်ပြရန်၊

( ခ) MOSB Limited မှ တည်ဆောက်မည့် International Port အတွက် တံတားဒီဇိုင်းပုံစံများကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ အတည်ပြုချက်ရယူရန်၊

( ဂ) လစဉ်မြေငှားရမ်းခများအား ကောက်ခံနိုင်ရေးအတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် မြေငှားစာချုပ် ချုပ်ဆိုဆောင်ရွက်ရန်၊

(ဃ) ဆိပ်ခံတံတားတည်ဆောက်ပြီးပါက မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ဆိပ်ကမ်းလုပ်ငန်းလိုင်စင်လျှောက်ထားရန်၊

( င) မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ဥပဒေကို လိုက်နာဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

\\motdata\D\KHWE-1 (WATER TRANSPORT)\2016\MPA\52 - PA SA (Balachint).doc

